



ပုံစံ(မ...-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ - ၃၀၂/၉၉ ၁၉၉၉ ခုနှစ်၊ အောက်တိုဘာလ ၂၉ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး ကျော်ဝင်း

(ခ) အဘအမည် ဦး အာဝါး

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လသန(နိုင်)၀၀၃၁၂၀

(ဃ) နေရပ်လိပ်စာ အမှတ် - ၈၅(ခ)၊ ရွှေစေတီပုလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ပင်လယ်သုံးစင်းကုမ္ပဏီ လီမိတက် (Tri Sea Co., Ltd)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ်(၂၂၄)၊ စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၅၀.၀၁)သန်း(ငါးဆယ်သိန်း ငါးဆယ် နှင့်တစ်ထောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
အမိန့် ကြော်ငြာစာအမှတ်၊ ၉ ၉ /၉၉ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၁ ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၅ ရက်။
(၁၉၉၉ ခုနှစ်၊ အောက်တိုဘာလ၂ ၉ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက် (Tri-Sea Co., Ltd.) တည်ထောင်၍ ကမကထပြုသူ ဦးကျော်ဝင်းနှင့် ဦးစိန်ဝင်း အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၂)၊ မြေကွက်အမှတ်(၂၂၄)ရှိ မြေ (၃.၁၇၅)ဧက အနက်မှ မြေ(၁)ဧက (၄၀၄၆.၈၆ စတုရန်း မီတာ)ပေါ်တွင် စက်ရုံ တည်ဆောက်ပြီး CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၀-၉-၉၉)နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၆/၉၉)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့်အညီ (၂၁-၁၀-၉၉)နေ့ တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃၇/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက် (Tri-Sea Co., Ltd.)အား CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၃၀၂/၉၉ ကို ထုတ်ပေးလိုက်သည်။

၂။ ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက် (Tri-Sea Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန်

သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဈ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက် (Tri-Sea Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့် အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ ပရိဘောဂများနှင့် လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာစာချုပ်စာတမ်းများကို တည်ဆဲဥပဒေများနှင့် အညီ ကုမ္ပဏီအား တရားဝင် ဖွဲ့စည်းတည်ထောင်ပြီးမှသာ နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၇။ ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက် (Tri-Sea Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၈။ ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက် (Tri-Sea Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၉။ ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက် (Tri-Sea Co., Ltd.)ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့်အညီ မှတ်ပုံတင်နိုင်ရန်အတွက် ကုမ္ပဏီများ ညွှန်ကြားမှု ဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီး သည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၁၀။ ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက် (Tri-Sea Co., Ltd.) ၏ မတည်ငွေရင်း ထည့်ဝင်မှုတွင် ကမကထပြုသူ ဦးကျော်ဝင်းနှင့် ဦးစိန်ဝင်းတို့၏ အမည်ပေါက်မြေကို အစုရှယ်ယာအဖြစ် ထည့်ဝင်မည် ဖြစ်ရာ ကုမ္ပဏီ၏အစုရှယ်ယာ ထည့်ဝင်မှုကိစ္စများ ဆောက်ရွက်ပြီးစီးသည့်အချိန်တွင် အဆိုပါ မြေကွက်အား ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက် (Tri-Sea Co., Ltd.) ၏ အမည်ပေါက် ဖြစ်စေရေးအတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနသို့ လျှောက်ထား ဆောင်ရွက်ရမည်။ ဂရန်ရရှိပါက ဂရန်မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက် (Tri-Sea Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၃။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက် (Tri-Sea Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။

၁၅။ ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက် (Tri-Sea Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ -

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက-၁/မ-၄၂၈/၉၉ (၆၂၀၆)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ အောက်တိုဘာလ ၂၆ ရက်။

ဖြန့်ဝေခြင်း -

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။

၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)

၁၅။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။

၂၈။ ဒါရိုက်တာ၊ ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက် (Tri-Sea Co., Ltd.)။

အမိန့်အရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

O/C

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

# Tri - Sea Co., Ltd.

မှ

အသင့်ချုပ်ပြီးအထည်အမျိုးမျိုး

ထုတ်လုပ်မည့်စက်ရုံ

တည်ထောင်ဆောင်ရွက်ရန်

အဆိုပြုတင်ပြချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၁၉၉၉ ခုနှစ်၊ အောက်တိုဘာလ (၁၃) ရက်၊

**အကြောင်းအရာ ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် ပေးပို့ခြင်း။**

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့် ပတ်သက်၍ "ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက်" **(Tri-Sea Co., Ltd.)** သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ၊ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ(၂)၊ မြေကွက်အမှတ်(၂၂၄)ရှိ မြေနေရာတွင်၊ CMP စနစ်ဖြင့် အထည်ချုပ်စက်ရုံ တည်ထောင်ရန်အတွက်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားခြင်းဖြစ်ပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်အရ ကုမ္ပဏီ၏ အဆိုပြုချက်ကို ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြခွင့်ပြုနိုင်ရန်အတွက် အဆိုပြုချက်များကို ပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဦးကျော်ဝင်း
ဒါရိုက်တာ
Tri - Sea Co., Ltd.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၁၉၉၉ ခုနှစ်၊ စက်တင်ဘာလ (၁၄ ) ရက်၊

**အကြောင်းအရာ ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် ပေးပို့ခြင်း။**

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့သည် **"ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက်"** (Tri- Sea Co., Ltd.) သည်၊ ရန်ကုန်တိုင်း၊လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ(၂)တွင်၊ CMP စနစ်ဖြင့် အထည်ချုပ်စက်ရုံ တည်ထောင်ပြီး၊ အရည်အသွေးကောင်းမွန်သည့် ချုပ်ပြီး အထည်များ ထုတ်လုပ်သည့်ခွင့်ပြုမိန့် ရရှိနိုင်ရန်အတွက်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ဆက်လက်ဆောင်ရွက်နိုင်ရန်အတွက် အဆိုပြုလွှာများကို ပေးပို့လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဦးကျော်ဝင်း
ဒါရိုက်တာ
Tri - Sea Co., Ltd.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၁၉၉၉ ခုနှစ်၊ ဇူလိုင်လ ( ၂၆ ) ရက်၊

**အကြောင်းအရာ ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် ပေးပို့ခြင်း။**

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့သည် "ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက်" (Tri- Sea Co., Ltd.) သည်၊ ရန်ကုန်တိုင်း၊လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ(၂)တွင်၊ **CMP** စနစ်ဖြင့် အထည်ချုပ်စက်ရုံ တည်ထောင်ပြီး၊ အရည်အသွေးကောင်းမွန်သည့် ချုပ်ပြီး အထည်များ ထုတ်လုပ်သည့်ခွင့်ပြုမိန့် ရရှိနိုင်ရန်အတွက်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ကြိုတင်ညှိနှိုင်း အစည်းအဝေးသို့တင်ပြရန် အဆိုပြုလွှာ (၁၂)စောင်ကို၊ ပေးပို့တင်ပြ လျှောက်ထား အပ်ပါသည်။

လေးစားစွာဖြင့်

ဦးကျော်ဝင်း
ဒါရိုက်တာ
Tri - Sea Co., Ltd.

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၁၉၉၉ ခုနှစ်၊ ဇူလိုင်လ (၂၆) ရက်၊

**အကြောင်းအရာ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ တရားဝင် မှတ်ပုံတင်ဖွဲ့စည်းမည့် ကျွန်တော်တို့၏ "ပင်လယ်သုံးစင်း ကုမ္ပဏီ လီမိတက်" (Tri-Sea Co., Ltd.) သည်၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ(၂) မြေကွက်အမှတ်(၂၂၄)ရှိ၊ မြေဧရိယာ(၃.၁၇၅)ဧက အနက်၊ မြေ(၁)ဧက အကျယ်အဝန်းရှိသော မြေကွက်တွင် အထည်ချုပ်စက်ရုံတည်ထောင်ပြီး မြန်မာနိုင်ငံတွင် အရည်အသွေးကောင်းမွန်သည့် ချုပ်ပြီးအထည် များကို CMP စနစ်ဖြင့်ထုတ်လုပ်ကာ၊ နိုင်ငံတကာဈေးကွက်သို့ အဓိကတင်ပို့ရန် ရည်ရွယ်လျှက်၊ ခေတ်မီနည်းပညာ စက်ပစ္စည်းကရိယာများဖြင့် ထုတ်လုပ်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။

၂။ ကျွန်တော်တို့ ကုမ္ပဏီသည် အထည်ချုပ်စက်ရုံ တည်ဆောက်ရန်အတွက် စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ကျပ်(၅၀၀.၀၇)သိန်း ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ ခေတ်မီအထည်ချုပ် စက်ပစ္စည်း ကရိယာများကို စင်္ကာပူနိုင်ငံ "Tri-Gen Trading Pte. Ltd." မှ Deferred Payment Loan Agreement အရ အတိုးမဲ့မှာယူတပ်ဆင်၍ CMP စနစ် (Cutting, Making and Packaging) အရ အသင့်ဝတ်ဆင်နိုင်သော အထည်များ ချုပ်လုပ်၍ ပြည်ပသို့ တင်ပို့ခြင်းနှင့် ပြည်တွင်းတွင် ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်မည် ဖြစ်ပါသည်။ Deferred Payment Loan Agreement ဖြင့် မှာယူမည့် စက်ပစ္စည်းများ၏ တန်ဖိုးကို ချုပ်ခဖြင့် ပြန်လည်ပေးဆပ်မည် ဖြစ်ပါသည်။ ချေးငွေ US$ (၃.၀၂)သိန်းကို (၈)နှစ် အတွင်း ပြန်လည်ပေးဆပ်မည် ဖြစ်ပါသည်။

၃။ အဆိုပြုလုပ်ငန်းအတွက်ရင်းနှီးမြှုပ်နှံငွေကျပ်(၅၀၀.၀၇)သိန်းတွင်ပြည်တွင်းသုံးကျပ်ငွေ(၁၀၀)သိန်း မြေတန်ဖိုး ကျပ်သိန်း(၇၀)၊ အဆောက်အအုံ ကျပ်သိန်း (၃၀၀)၊ စက်ပစ္စည်းကရိယာများ ကျပ်(၁၈.၁၂)သိန်း (**US$ ၃.၀၂သိန်း**)၊ ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်း များ ကျပ်(၂၀)သိန်း တို့ဖြင့် ထည့်ဝင်ရင်းနှီးမည် ဖြစ်ပါသည်။ အထည်ချုပ်စက်ရုံမှ ချုပ်လုပ်ပြီးသော အဝတ်အထည်များ၏ ၉၅% ကို ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး **Reject Quality** ၅% ကို ပြည်တွင်းတွင် ကျပ်ငွေဖြင့် ရောင်းချမည်ဖြစ်ပါသည်။ ကျွန်တော်တို့၏ အထည်ချုပ်စက်ရုံမှ အောက်ပါတို့ကို ထုတ်လုပ်ပေးမည် ဖြစ်ပါသည်။ ထို့အပြင် **Order** ရရှိမှုအပေါ်မူတည်၍လည်း အသင့်ဝတ်ဆင်နိုင်သော အထည်အမျိုးမျိုးကို ပြောင်းလဲချုပ်လုပ်မည် ဖြစ်ပါသည်။

(က) Tee Shirt
(ခ) Polo Shirt
(ဂ) Sport Shirt
(ဃ) Knit Shirt
(င) Trousers
(စ) Jacket
(ဆ) Ladies Garment

၄။ ကျွန်တော်တို့ကုမ္ပဏီတွင် အဆိုပြုလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရန် ကျွမ်းကျင်သူပညာရှင်များနှင့် လုပ်ငန်းအတွေ့အကြုံရှိသူများ ပါဝင်မည်ဖြစ်ပါသည်။ ထို့အပြင် နိုင်ငံခြားမှ အထူးကျွမ်းကျင်သူ ပညာရှင် အချို့ကိုလည်း အချိန်ပိုင်း ငှားရမ်းမည်ဖြစ်ပြီး ပြည်တွင်းမှ လုပ်သားများကို အတတ်ပညာများ သင်ကြားပေးခြင်းဖြင့် နည်းပညာများ ရယူနိုင်မည်ဖြစ်ပါသည်။ **CMP** စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း လုပ်ကိုင်ခြင်းဖြင့် နိုင်ငံခြားဝင်ငွေရရှိခြင်း၊ လုပ်သားများအလုပ်အကိုင်အသစ်များ ရရှိခြင်းနှင့် နည်းပညာများ ရယူနိုင်မည် ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံခြားဝင်ငွေ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက်လည်းကောင်း၊ စက်မှုနည်းပညာရပ်များတိုးတက်လာစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံ၏ စီးပွါးရေး ဖွံ့ဖြိုးတိုးတက်စေရန် အတွက်လည်းကောင်း၊ကျွန်တော်တို့ကုမ္ပဏီသည်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ အထည်ချုပ်စက်ရုံ တည်ထောင်ဆောင်ရွက်ရန် ခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန် လျှောက်ထားအပ်ပါသည်။ ထို့အပြင် ပြည်ထောင်စု မြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် လေးစားစွာ လျှောက်ထားအပ်ပါသည်။

၆။ အဆိုပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်အနေဖြင့် ခွင့်ပြုမိန့် ထုတ်ပေးနိုင်ရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထား စာရွက်စာတမ်းများ ကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထပြုသူ၏ အဆိုပြုချက်၊
(ခ) ဘဏ္ဍာရေး အချက်အလက်များနှင့်ပတ်သက်၍ တွက်ချက်မှုဇယားများ၊
(ဂ) Deferred Payment Loan Agreement on CMP Basis (Draft)
(ဃ) မြေပိုင်ဆိုင်မှုအထောက်အထားများ၊
(င) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးအထောက်အထားများ၊
(စ) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊ (မူကြမ်း)

လေးစားစွာဖြင့်

ဦးကျော်ဝင်း
ဒါရိုက်တာ
Tri -Sea Co., Ltd.

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၁၉၉၉ ခုနှစ်၊ ဇူလိုင်လ (၂၆) ရက်၊

အကြောင်းအရာ ။ **။ Tri - Sea Co., Ltd. ဖွဲ့စည်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိ ဝန်ခံချက် တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ကျွန်တော်တို့၏ "ပင်လယ်သုံးစင်းကုမ္ပဏီလီမိတက်" တည်ထောင်၍ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုံ(၂)တွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြလျှောက်ထားခြင်းဖြစ်ပါသည်။ ထိုသို့လျှောက်ထားရာတွင်၊ အောက်ပါတို့ကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိပါကြောင်းဝန်ခံကတိပြုတင်ပြအပ်ပါသည်။

(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်းကိုလည်း ဝန်ခံကတိပြုပါသည်။

(ဂ) နိုင်ငံတော်အစိုးရမှမြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(ဃ) ထို့အပြင် ကျွန်တော်များကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွါးစေရန်အတွက်လိုအပ်သောအစီအမံများ၊မီးဘေး ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်၏နည်းဥပဒေ စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံး လုပ်နည်းများနှင့် အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖေါ်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(င) "Tri-Sea Company Limited" သည်၊ စင်္ကာပူနိုင်ငံ " Tri-Gen Trading Pte. Ltd. " မှ စက်ပစ္စည်းကရိယာများကို Deferred Payment Loan Agreement ဖြင့် US$ ၃၀၂,၀၀၀ ချေးယူခြင်းကိစ္စသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိပဲ၊ ဤလုပ်ငန်းမှရရှိသည့် နိုင်ငံခြားဝင်ငွေဖြင့် ပြန်လည် ပေးဆပ်ရန် တာဝန်ယူပါသည်။

(စ) "Tri-Sea Company Limited" အနေဖြင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း ဒေသန္တရစက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးမှု ညွှန်ကြားမှုဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးကျော်ဝင်း
ဒါရိုက်တာ
Tri -Sea Co., Ltd.

**TRI DIAMOND**
**TRADING COMPANY LTD.**
NO.42, 7th STREET, LANMADAW 11131, YANGON, MYANMAR.

TEL : 95-1-223256, 222604, 222247
TLX : 21201 BM 1215 KW
FAX : 95-1-222247
E-mail : tri.diamond@mtpt400.stems.com

## ဒါရိုက်တာအဖွဲ့အစည်းအဝေးမှတ်တမ်း

ကျင်းပသည့်နေ့ ။ ။ ၂၁-၆-၉၉
ကျင်းပသည့်အချိန် ။ ။ နံနက် (၁၀:၀၀) နာရီ
ကျင်းပသည့်နေရာ ။ ။ ကုမ္ပဏီရုံး အစည်းအဝေးခန်းမ၊

**အစည်းအဝေးတက်ရောက်သူများ**

| | | |
|---|---|---|
| ၁။ | ဦးကျော်ဝင်း | – ၁၂/လသန(နိုင်) ၀၀၃၅၂၀ |
| ၂။ | ဦးစိန်ဝင်း | – ၁၂/လမတ(နိုင်) ၀၂၀၇၆၃ |
| ၃။ | ဦးအာဝါး | – WKA-၀၁၅၅၉၉ |
| ၄။ | ဒေါ်အေးအေးမြင့် | – ၁၂/လသန(နိုင်) ၀၀၃၃၅၆ |
| ၅။ | ဦးကျော်လင်း | – WKA-၁၉၄၂၄၈ |
| ၆။ | ဦးသက်ရှည် | – WKA-၁၉၀၂၃၉ |
| ၇။ | ဦးစိုးဝင်း | – ၁၂/ပဘတ(နိုင်)၀၂၂၈၂၉ |

**အစည်းအဝေးဆုံးဖြတ်ချက်**

၁။ ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာဖြစ်သူ ဦးကျော်ဝင်းက သဘာပတိအဖြစ် ဆောင်ရွက်၍ ကုမ္ပဏီ၏ လုပ်ငန်းရပ်များနှင့်ပတ်သက်၍ဆွေးနွေးပြောကြားပါသည်။ အထည်ချုပ်လုပ်ငန်းတည်ထောင်ရန်အတွက်မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန် ဆုံးဖြတ်ကြောင်း၊ မိမိတို့အနေဖြင့်(Tri - Sea Co., Ltd.)ပင်လယ်သုံးစင်းကုမ္ပဏီလီမိတက် အမည်သစ်တစ်ခုဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန် ဆွေးနွေး၍ အောက်ပါ အတိုင်းသဘောတူ ဆုံးဖြတ်ကြပါသည်။

(က) ပင်လယ်သုံးစင်းကုမ္ပဏီလီမိတက်အား Tri-Diamond Co., Ltd. ၏ လက်အောက်ခံ ကုမ္ပဏီ တစ်ခုအဖြစ်ဖွဲ့စည်းရန်နှင့် ယင်းကုမ္ပဏီအမည်ဖြင့်ပင် လှိုင်သာယာ စက်မှုဇုံတွင် အထည်ချုပ် လုပ်ငန်းတည်ထောင်ဆောင်ရွက်ရန်အတွက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြရန်

(ခ) အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန် ကိစ္စများကို အုပ်ချုပ်မှု ဒါရိုက်တာ ဦးကျော်ဝင်းမှတာဝန်ယူဆောင်ရွက်ရန်၊

(ဂ) ပင်လယ်သုံးစင်း ကုမ္ပဏီလီမိတက်၏ မ,တည်ရင်းနှီးငွေများကို Tri-Diamond Co., Ltd. မှပင် တာဝန် ယူဆောင်ရွက်ရန်၊

(ဃ) ဦးကျော်ဝင်း၊ ဦးစိန်ဝင်းအမည်ပေါက်ထားသော လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ(၂)၊ မြေကွက် အမှတ်(၂၂၄)ရှိ၊ မြေကို မ,တည်ငွေရင်းအဖြစ်ထည့်ဝင်ရန်နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုချက်ရရှိပါက ကုမ္ပဏီအမည်သို့ပြောင်းလဲပေးမည်ဖြစ်ကြောင်း၊

အထက်ပါအတိုင်း ဆွေးနွေးဆုံးဖြတ်ကြပြီး အစည်းအဝေးကို မွန်းလွဲပိုင်းတွင်ရုတ်သိမ်းလိုက်ပါသည်။

KYAW WIN
MANAGING DIRECTOR
TRI DIAMOND TRADING CO., LT



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏

## အဆိုပြုချက်

ပုံစံ ( မနသ–၁)

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ ]

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဇူလိုင်လ( ၂၆) ရက်။

ကျွန်တော်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံလိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါအချက်များကိုဖော်ပြ၍လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏–

| | |
|---|---|
| (က) အမည် | – **ဦးကျော်ဝင်း** |
| (ခ) အဖအမည် | – **ဦးအာဝါး** |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | – **၁၂/လသန (နိုင်) ၀၀၃၅၂၀** |
| (ဃ) နေရပ်လိပ်စာ | – **အမှတ် –၈၅(ခ)၊ ရှင်စောပုလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့ ။** |
| (င) လူမျိုး၊ဘာသာ | – **(တရုတ်/မြန်မာ)/ ဗုဒ္ဓဘာသာ** |
| (စ) အဖွဲ့အစည်းအမည် | – |
| (ဆ) လုပ်ငန်းအမျိုးအစား | – |
| (ဇ) အဖွဲ့အစည်းတည်နေရာအရပ် | – |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏-

(က) အမည် (၁)............................ (၂) ................................

............................ ................................

............................ ................................

(ခ) အဖအမည် (၁)............................ (၂) ................................

............................ ................................

............................ ................................

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်

(၁)............................ (၂)................................

............................ ................................

............................ ................................

(ဃ) နေရပ်လိပ်စာ (၁)............................ (၂) ................................

............................ ................................

............................ ................................

(င) လူမျိုးဘာသာ (၁)............................ (၂) ................................

............................ ................................

............................ ................................

(စ) အဖွဲ့အစည်းအမည် - ............................................................................

(ဆ) လုပ်ငန်းအမျိုးအစား - ............................................................................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် - ............................................................................

............................................................................

( နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန် )

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း - **CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း၊**

(ခ) ဝန်ဆောင်မှုလုပ်ငန်း - ............................................................................

( ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန် )

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ–

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

-------------- **လီမိတက်ကုမ္ပဏီ** ---------------

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

-----------------------------------------------

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

-----------------------------------------------

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဍာန်–

(က) တစ်ဦးတည်းပိုင် – ..........................................................................

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း – ..........................................................................

(ဂ) လီမိတက်ကုမ္ပဏီ – **ပင်လယ်သုံးစင်းကုမ္ပဏီလီမိတက်(Tri-Sea Co., Ltd.)**

(ဃ) သမဝါယမအသင်း – ..........................................................................

(အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့် မ,တည်ငွေရင်းအချိုးအစား၊စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့် သူများ၏ အမည်၊နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်) **နောက်ဆက်တွဲ (၁)**

၆။ ဖက်စပ်/အစုစပ်လုပ်ငန်း ဖြစ်ပါက–

(က) အစုစပ်တို့က ထည့်ဝင်မည့်အစုငွေအချိုးအစားနှင့်ပမာဏ

..........................................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား ..........................................................................

(ဂ) အစုဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ ..........................................................................

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီဖြစ်ပါက–

(က) ခွင့်ပြုမတည်ငွေရင်း – **ကျပ်သန်း ၅၀၀,၀၀၀,၀၀၀/– (ကျပ်သန်းငါးရာတိတိ)**

(ခ) အစုရှယ်ယာ အမျိုးအစား – **ကျပ် ၁၀,၀၀၀တန် အစုရှယ်ယာ ၅၀,၀၀၀**

(ဂ) အစုရှယ်ရာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ– **၅၅၀ ရှယ်ယာ**

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ–

(က) မတည်ငွေရင်းပမာဏ **(ထောင်ပေါင်း)**

| | ကိုယ်ပိုင် (ကျပ်) | နိုင်ငံခြားငွေ US$ | စုစုပေါင်း (ကျပ်) |
|---|---|---|---|
| (၁) ငွေပမာဏ – | ၁၀,၀၀၀ | – | ၁၀,၀၀၀ |
| (၂) စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ **နောက်ဆက်တွဲ (၂)** | – | ၃၀၂ | ၁,၈၁၂ |
| (၃) အဆောက်အအုံများ **နောက်ဆက်တွဲ (၃)** | ၃၀,၀၀၀ | – | ၃၀,၀၀၀ |
| (၄) မြေ | ၇,၀၀၀ | – | ၇,၀၀၀ |
| (၄) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ **နောက်ဆက်တွဲ (၄)** | ၁,၁၉၅ | – | ၁,၁၉၅ |
| (၅) ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ – | – | – | – |
| **စုစုပေါင်း** | ၄၈,၁၉၅ | ၃၀၂ | ၅၀,၀၀၇ |

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်

| | ကျပ် (၀၀၀) | US$ (၀၀၀) |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏တန်ဖိုးပမာဏ **နောက်ဆက်တွဲ (၂)** | ၁,၈၁၂ | ၃၀၂ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြား အလားတူပစ္စည်းများ၏တန်ဖိုး **နောက်ဆက်တွဲ (၅)** | .................... | ...................... |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | .................... | ...................... |
| | ၁,၈၁၂ | ၃၀၂ |

(ဂ) တည်ဆောက်မှုကာလ – (၁) နှစ်

(ဃ) ပဏာမ စူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ – (၃) လ

(င) တည်ဆောက်မှု စတင်မည့်အချိန် – **ခွင့်ပြုမိန့်ရပြီးလျှင်ရပြီးခြင်း လုပ်ငန်းစတင်မည် ဖြစ်ပါသည်။**

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ–

(က) လုပ်ငန်းအမျိုးအစား – **CMP စနစ်ဖြင့် အသင့်ချုပ်ပြီးအထည်များထုတ်လုပ်ခြင်း**

(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုစသည့်ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ – **ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ(၂) မြေကွက်အမှတ် (၂၂၄)**

(ဂ) ဆောင်ရွက်ပုံနည်းစနစ် – **ခေတ်မီနည်းပညာ၊ ကျွမ်းကျင်သူများမှ နည်းပညာများ ရယူ၍ စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။**

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက်–

| | **အမျိုးအစား** | အရေအတွက် |
|---|---|---|
| ၁။ | **ဓါတ်ဆီ** | ၈,၀၀၀ ဂါလံ |
| ၂။ | **ဒီဇယ်ဆီ** | ၁,၆၀၀ ဂါလံ |
| ၃။ | ............. | ............ |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက်–

| **အားအသုံးပြုမှု** | မြင်းကောင်ရေ |
|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | ၃၀၀ ကီလိုဝပ် |
| ၂။ ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | ............................ |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | ............................ |
| ၄။ သဘာဝဓာတ်ငွေ့သုံးစက်အား | ............................ |
| ၅။ ပေးပို့သည့်အခြားအား | ............................ |

(ရေအား/လေအား စသည်များ)

(စ) နှစ်စဉ် ရေလိုအပ်ချက် – ၁၀၀,၀၀၀ ဂါလံ

(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်) ........................

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက်

| **အမျိုးအမည်** | **ရေတွက်ပုံ** | **အရေအတွက်** | **တန်ဖိုး(ကျပ်ထောင်ပေါင်း)** |
|---|---|---|---|
| ၁။ အဓိကကုန်ကြမ်း | | | |
| (၁) ............... | .............. | **နောက်ဆက်တွဲ(၅)** | |
| (၂) ................ | .............. | ............... | ............. |
| ၂။ အထောက်အကူကုန်ကြမ်း | | | |
| (၁) ................ | ......... ..... | ............... | ............. |
| ................ | .............. | ............... | ............. |
| ၃။ စက်သုံးဆီ/ဓါတ်ငွေ့များ – | | | |
| (၁) ................ | .............. | ............... | ............. |
| (၂) ................ | .............. | ............... | ............. |

(ဇ) အဆောက်အအုံလိုအပ်ချက် – **၁၂၀'x၁၃၃' အဆောက်အအုံ (၂)လုံး**

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝင်းလိုအပ်ချက် – **စက်ရုံ(၁.၀၀) ဧက (၄၀၄၆.၈၆ စတုရန်းမီတာ)**
..................................................................................................................

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု

| **အမျိုးအမည်** | **ရေတွက်ပုံ** | **အရေအတွက်** | **တန်ဖိုး** |
|---|---|---|---|
| Tee shirt | ဒါဇင် | ၁၉,၀၀၀ | ........ |
| Polo shirt | ဒါဇင် | ၁၅,၀၀၀ | ........ |
| Sport shirt | ဒါဇင် | ၁၉,၀၀၀ | ........ |
| Knit shirt | ဒါဇင် | ၁၉,၀၀၀ | ........ |
| Trousers | ဒါဇင် | ၁၀,၀၀၀ | ........ |
| Jacket | ဒါဇင် | ၁၉,၀၀၀ | ........ |
| Ladies Garment | ဒါဇင် | ၁၉,၀၀၀ | ........ |

**နောက်ဆက်တွဲ (၆) (၇)**

(ဋ) ရောင်းချမည့်နည်းစနစ် – **ချုပ်လုပ်ပြီး အထည်များ၏ ၉၅%ကို CMP စနစ်ဖြင့် ပြန်လည်တင်ပို့မည် ဖြစ်ပြီး Reject ၅% ကိုပြည်တွင်းတွင်ကျပ်ငွေဖြင့် ဖြန့်ဖြူးရောင်းချမည် ဖြစ်ပါသည်။**

၁၀။ နှစ်စဉ်ကုန်ထုတ်မှု/ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ –

| | ခန့်မှန်းခြေ | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | ၁၀,၀၀၀ | ............. |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | ............ | ၃၀၂ |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | ............ | ............. |
| (ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ (တစ်နှစ်ပျှမ်းမျှ) | ............ | ............... |
| (င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ (တစ်နှစ်ပျှမ်းမျှ) | ............ | ............. |

နောက်ဆက်တွဲ (၆),(၇),(၈),(၉)

၁၁။ ဆောင်ရွက်မည့် စီးပွါးရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း –

(က) ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ –

| **အမှုထမ်းအမျိုးအစား** | ဦးရေ |
|---|---|
| **စီမံခန့်ခွဲမှုဝန်ထမ်း** | ၁၁ ဦး |
| **စက်ရုံဝန်ထမ်း** | ၃၀၀ ဦး |
| **အခြားအဆင့်** | ၉ ဦး |
| | ၃၂၀ ဦး |

နောက်ဆက်တွဲ (၁၀)

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ -

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
|---|---|---|
| အထည်ချုပ်ပညာရှင် | ၅ | အချိန်ပိုင်း |
| ...................... | ........ | ....................... |
| ...................... | ........ | ....................... |

(နိုင်ငံခြားပညာရှင်များအတွက် ကုမ္ပဏီမှ လစာပေးရန်မလိုပါ)

၁၂။ စီးပွါးရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | | ကျပ်ငွေ (၀၀၀) | နိုင်ငံခြားငွေ (၀၀၀) |
|---|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု **နောက်ဆက်တွဲ (၈)** | ၃၈,၀၃၈ | ၆၂၇ |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် **နောက်ဆက်တွဲ (၈)** | ၃၁,၀၃၅ | - |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် **နောက်ဆက်တွဲ (၈)** | ၃,၅၄၅ | ၆၂၇ |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု (ပထမနှစ်) | ၄၈,၁၉၅ | ၃၀၂ |
| (င) | အရင်းကျေကာလ **နောက်ဆက်တွဲ (၉)** | - ၆ နှစ် ၄ လ | |
| (စ) | အခြား အကျိုးအမြတ်များ | - **နည်းပညာသစ်များ ရရှိပြီး နိုင်ငံသားများအတွက်အလုပ်အကိုင်သစ်များ ရရှိနိုင်ပါသည်။** | |
| (ဆ) | အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ | - **၃၂၀ ဦး အထည်များကို တိုးချဲ့ ထုတ်လုပ်နိုင်ပြီး Order များပိုမိုရရှိလာပါက အလုပ်အကိုင် အသစ်များ ပိုမိုရရှိလာနိုင်ပါသည်။** | |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပရိုဂျက်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်းမရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါကလက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ်၊ ............................
အမည်၊ ဦးကျော်ဝင်း
ရာထူး၊ ဒါရိုက်တာ
Tri-Sea Co., Ltd.
(လျှောက်ထားသူ)

နောက်ဆက်တွဲ ( ၁ )

# Tri-Sea Co., Ltd.

## စီမံခန့်ခွဲသူ / စီမံခန့်ခွဲမည့်သူများ၏ အမည်စာရင်း
## ( အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ )

| စဉ် | အမည် | နိုင်ငံသား<br>မှတ်ပုံတင်အမှတ် | ရာထူး<br>အဆင့် | အစုရှယ်ယာ<br>အချိုးအစား | နေရပ်လိပ်စာ |
|---|---|---|---|---|---|
| ၁. | ဦးကျော်ဝင်း | မြန်မာ<br>၁၂/လသန (နိုင်)<br>၀၀၃၅၂၀ | ဒါရိုက်တာ | ၄၀% | အမှတ်–၈၅၊ ရှင်စောပုလမ်း<br>စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။ |
| ၂. | ဦးစိန်ဝင်း | မြန်မာ<br>၁၂/လမတ (နိုင်)<br>၀၂၀၇၆၃ | ဒါရိုက်တာ | ၂၀% | အမှတ်(၄၂)၊၇လမ်း၊<br>လမ်းမတော်မြို့နယ်၊<br>ရန်ကုန်မြို့။ |
| ၃. | ဦးကျော်လင်း | မြန်မာ<br>၁၄/ဝခမ(နိုင်)<br>၁၂၉၀၄၅ | ဒါရိုက်တာ | ၂၀% | အမှတ်(၁၁၀)၊မြူရုံးလမ်း၊<br>ဝါးခယ်မမြို့နယ်၊<br>ဧရာဝတီတိုင်း။ |
| ၄. | ဒေါက်တာအေးအေးမြင့် | မြန်မာ<br>၁၂/လသန (နိုင်)<br>၀၀၃၃၅၆ | ဒါရိုက်တာ | ၂၀% | အမှတ်(၂၄)၊ (ပ)ထပ်၊<br>၁၇–လမ်း၊ လသာမြို့နယ်၊<br>ရန်ကုန်မြို့။ |

နောက်ဆက်တွဲ (၂)

**Tri - Sea Co., Ltd.**

**List of Machinery and Equipment to be Imported**

| Sr. No. | Description | Qty | Unit Price ( US$) | Amount ( US$ ) |
|---|---|---|---|---|
| 1. | Generating Set (Including necessary parts)<br>(a) 300 KVA | 1 set | 22,000 | 22,000 |
| 2. | 5 Thread Inter Lock Sewing Machine | 10 set | 400 | 4,000 |
| 3. | 4 Thread Over Lock Sewing Machine | 50 set | 600 | 30,000 |
| 4. | Button Holing Machine | 5set | 1,200 | 6,000 |
| 5. | Button Sewing Machine | 5set | 700 | 3,500 |
| 6. | Stright Knife Cutting Machine | 3 set | 1,000 | 3,000 |
| 7. | Diesel Powered Boiller with Steam Iron | 8 set | 7000 | 56,000 |
| 8. | Packing Machine | 1 set | 800 | 800 |
| 9. | Sigle Needle Lockstick sewing Machine | 300 set | 340 | 102,000 |
| 10. | Construction Materials<br>-Cement<br>-MS Bars | <br>M/Ton 100<br>M/Ton 50 | <br>70<br>400 | <br>7,000<br>20,000 |
| 11. | Vehicle<br>-Pick Up (95 model and up)<br>-Wagon | <br>1<br>1 | <br>20,000<br>25,000 | <br>20,000<br>25,000 |
| 12. | Air Conditioner | 5 set | 500 | 2,500 |
| 13. | Television (Big scream Computer Projector for confrence room) | 1 set | 200 | 200 |
| | Total | | | 302,000 |

နောက်ဆက်တွဲ ( ၃ )

**Tri - Sea Co., Ltd.**
**Value of Factory Buildings**

| Sr. No. | Description | No. of Buildings | Dimension | Total Cost (Kyat 000) |
|---|---|---|---|---|
| 1. | Factory Building | 2 | 120' x 133' | 30,000 |
| | | | Total | 30,000 |

နောက်ဆက်တွဲ (၄)

## ပင်လယ်သုံးစင်းကုမ္ပဏီလီမိတက်
## ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများစာရင်း (ရင်းနှီးမြှုပ်နှံမှု)

| စဉ် | အမျိုးအစား | အရေအတွက် | ဈေးနှုန်း (ကျပ်) | တန်ဖိုး (ကျပ်) |
|---|---|---|---|---|
| ၁ | စားပွဲ၊ ကုလားထိုင် | အစုံ ၂၀ | ၈,၀၀၀ | ၁၆၀,၀၀၀ |
| ၂ | စက်ချုပ်လုပ်သားခုံ | ၄၅၀ | ၈၀၀ | ၃၆၀,၀၀၀ |
| ၃ | ပိတ်ဖြန့်ခုံ | ၃ | ၅၀,၀၀၀ | ၁၅၀,၀၀၀ |
| ၄ | အထည်စစ်စားပွဲ | ၂၀ | ၅,၀၀၀ | ၁၀၀,၀၀၀ |
| ၅ | အရည်အသွေးစစ်ခုံ | ၅ | ၅,၀၀၀ | ၂၅,၀၀၀ |
| ၆ | အဝတ်ထည့်ဇလားငယ် | ၂၀၀ | ၄၀၀ | ၈၀,၀၀၀ |
| ၇ | အဝတ်ထည့်ဇလားကြီး | ၂၀ | ၄,၀၀၀ | ၈၀,၀၀၀ |
| ၈ | ကုန်ကြမ်းနှင့် ကုန်ချောပစ္စည်းတင်ရန်စင် | ၂၀ | ၁၀,၀၀၀ | ၂၀၀,၀၀၀ |
| ၉ | ဘီဒို | ၅ | ၈,၀၀၀ | ၄၀,၀၀၀ |
| | စုစုပေါင်း | | | ၁,၁၉၅,၀၀၀ |

နောက်ဆက်တွဲ (၅)

# Tri-Sea Co., Ltd.
## List of Raw Materials Requirement

| Sr. No. | Description | Quantity | Unit Price (US$) | Amount (US$) |
|---|---|---|---|---|
| 1. | T/R ANT FLEECE | 150000KGS | 2.80 | 420,000 |
| 2. | T/R FLEECE ANTI-PILLING | 120000KGS | 2.95 | 354,000 |
| 3. | T/C BERBER | 100000KGS | 3.20 | 320,000 |
| 4. | T/C SHERPA | 80000KGS | 3.30 | 264,000 |
| 5. | T/C FRENCH RIB | 150000KGS | 2.50 | 375,000 |
| 6. | 100% POLAR FLEECE | 200000KGS | 2.65 | 530,000 |
| 7. | T/C FLEECE | 100000KGS | 2.50 | 250,000 |
| 8. | CVC FRENCH RIB | 80000KGS | 2.55 | 204,000 |
| 9. | 100% COTTON 1x1 RIB | 12000KGS | 3.10 | 37,200 |
| 10. | CVC FLAT YOKO | 40000DOZ | 2.70 | 108,000 |
| 11. | T/C FLAT YOKO | 30000DOZ | 2.40 | 72,000 |
| 12. | NYLON TAFFETA | 20000YDS | 1.40 | 28,000 |
| 13. | CVC BABY FRENCH TERRY | 15000KGS | 2.40 | 36,000 |
| 14. | 95% COTTON 5% LYCRA PK | 10000KGS | 3.70 | 37,000 |
| 15. | 100% COTTON SMALL WAFFLE | 8000KGS | 2.95 | 23,600 |
| 16. | T/C 2x2 RIB | 5000KGS | 2.60 | 13,000 |
| 17. | CVC 60% COTTON 40% POLYESTER INTERLOCK | 80000KGS | 3.00 | 240,000 |
| 18. | 100% POLYESTER INTERLOCK | 50000KGS | 2.20 | 110,000 |
| 19. | 100% POLYESTER VELOUR | 70000KGS | 2.50 | 175,000 |
| 20. | 100% POLYESTER 1x1 RIB | 5000KGS | 2.80 | 14,000 |
| 21. | CVC + LYCRA 1x1 RIB | 10000KGS | 2.40 | 24,000 |
| 22. | 100% NYLON TASLON | 2000KGS | 0.50 | 1,000 |
| 23. | SP THREAD | 50000LBS | 1.10 | 55,000 |
| 24. | NYLON THREAD | 30000LBS | 1.05 | 31,500 |
| 25. | PP POLYBAG | 180000DOZ | 0.15 | 27,000 |
| 26. | PE POLYBAG (WATERPROOF) | 60000DOZ | 0.20 | 12,000 |
| 27. | HANG TAG | 180000DOZ | 0.20 | 36,000 |
| 28. | TAG TAPE | 1000BOX | 1.20 | 1,200 |
| 29. | ZIPPER | 30000DOZ | 0.45 | 13,500 |
| 30. | MAIN LABEL | 180000DOZ | 0.08 | 14,400 |
| 31. | WASH LABEL | 180000DOZ | 0.03 | 5,400 |
| 32. | SIZE LABEL | 180000DOZ | 0.012 | 2,160 |
| 33. | SIDE LABEL | 180000DOZ | 0.04 | 7,200 |
| 34. | PRICE LABEL | 180000DOZ | 0.04 | 7,200 |
| 35. | PLASTIC BUTTON | 40000GROSS | 0.25 | 10,000 |
| 36. | TWILL TAPE (TAPEING) | 300000YDS | 0.015 | 4,500 |
| 37. | RIBBON | 300000YDS | 0.006 | 1,800 |
| 38. | ELASTIC | 3000YDS | 0.095 | 285 |
| 39. | HOOK & LOOP TAPE | 3000YDS | 0.05 | 150 |
| 40. | CARDBOARD | 180000DOZ | 0.07 | 12,600 |
| 41. | STICK | 60000DOZ | 0.012 | 720 |
| 42. | PP TAPE | 2000ROLL | 3.95 | 7,900 |
| 43. | MARK PAPER | 2000ROLL | 0.585 | 1,170 |
| 44. | CORDING | 60000YDS | 0.02 | 1,200 |
| 45. | SIZE CLIP | 20000DOZ | 0.005 | 100 |
| 46. | HANGER | 20000DOZ | 0.85 | 17,000 |
| 47. | PLASTIC CLIP | 20000DOZ | 0.025 | 500 |
| | | | TOTAL | 3,906,305 |

နောက်ဆက်တွဲ ( ၆ )
SHEET ( 1 )

**Tri-Sea Co., Ltd**
**Projected Production & CMP**

| PARTICULARS | UNIT | YEAR | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|
| | | 1 | 2 | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 |
| Ladies Garment | dozens | 19,000 | 19,000 | 19,000 | 20,900 | 20,900 | 20,900 | 20,900 | 20,900 | 20,900 | 20,900 |
| Knit Shirt | | 19,000 | 19,000 | 19,000 | 20,900 | 20,900 | 20,900 | 20,900 | 20,900 | 20,900 | 20,900 |
| Jacket | | 19,000 | 19,000 | 19,000 | 20,900 | 20,900 | 20,900 | 20,900 | 20,900 | 20,900 | 20,900 |
| T.Shirt | | 19,000 | 19,000 | 19,000 | 20,900 | 20,900 | 20,900 | 20,900 | 20,900 | 20,900 | 20,900 |
| Trousers | | 10,000 | 10,000 | 10,000 | 11,000 | 11,000 | 11,000 | 11,000 | 11,000 | 11,000 | 11,000 |
| Polo Shirt | | 15,000 | 15,000 | 15,000 | 16,500 | 16,500 | 16,500 | 16,500 | 16,500 | 16,500 | 16,500 |
| Sport Shirt | | 19,000 | 19,000 | 19,000 | 20,900 | 20,900 | 20,900 | 20,900 | 20,900 | 20,900 | 20,900 |
| Total | | 120,000 | 120,000 | 120,000 | 132,000 | 132,000 | 132,000 | 132,000 | 132,000 | 132,000 | 132,000 |
| 95% CMP On Production | | | | | | | | | | | |
| Ladies Garment | dozens | 18,050 | 18,050 | 18,050 | 19,855 | 19,855 | 19,855 | 19,855 | 19,855 | 19,855 | 19,855 |
| Knit Shirt | | 18,050 | 18,050 | 18,050 | 19,855 | 19,855 | 19,855 | 19,855 | 19,855 | 19,855 | 19,855 |
| Jacket | | 18,050 | 18,050 | 18,050 | 19,855 | 19,855 | 19,855 | 19,855 | 19,855 | 19,855 | 19,855 |
| T.Shirt | | 18,050 | 18,050 | 18,050 | 19,855 | 19,855 | 19,855 | 19,855 | 19,855 | 19,855 | 19,855 |
| Trousers | | 9,500 | 9,500 | 9,500 | 10,450 | 10,450 | 10,450 | 10,450 | 10,450 | 10,450 | 10,450 |
| Polo Shirt | | 14,250 | 14,250 | 14,250 | 15,675 | 15,675 | 15,675 | 15,675 | 15,675 | 15,675 | 15,675 |
| Sport Shirt | | 18,050 | 18,050 | 18,050 | 19,855 | 19,855 | 19,855 | 19,855 | 19,855 | 19,855 | 19,855 |
| Total | | 114,000 | 114,000 | 114,000 | 125,400 | 125,400 | 125,400 | 125,400 | 125,400 | 125,400 | 125,400 |

Note:From Fourth Year Onwards 10%  Production will be increased

